အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Kyay 'O' Kyee Petroleum Products Co., Ltd. မှ အင်ဂျင်ဝိုင် ရောစပ်ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Kyay 'O' Kyee Petroleum Products Co., Ltd.<br>- Kyay 'O' Kyee Petroleum Products Co., Ltd.<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- အင်ဂျင်ဝိုင် ရောစပ်ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၆၈၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက်<br>နှစ်စဉ်မြေငှားရမ်းခ<br>မြေ/အဆောက်အဦငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဦးကျော်ဝင်း<br>- ၂.၂၅၁ ဧက<br>-<br>-<br>- |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်<br>သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၆ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - အမေရိကန်ဒေါ်လာ ၆.၀၀ သန်း |

| ထည့်ဝင်မည့် အမျိုးအစား | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| ငွေပမာဏ | ၉၆၃.၉၁ | - | ၉၆၃.၉၁ |
| စက်နှင့်စက်ပစ္စည်း | ၉၃၇.၂၉ | - | ၉၃၇.၂၉ |
| အဆောက်အဦကုန်ကျစရိတ် | ၄၅၉.၃၀ | - | ၄၅၉.၃၀ |
| ကနဦးကုန်ကြမ်း | - | ၂.၇၇ | ၃,၇၃၉.၅၀ |
| စုစုပေါင်း | ၂,၃၆၀.၅၀ | ၂.၇၇ | ၆,၁၀၀.၀၀ |

| | | |
|---|---|---|
| ၇။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% |
| ၈။ | ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း | - ပြည်တွင်း ၁၀၀%<br>**ထုတ်လုပ်မှု အရေအတွက်(Drums)** / **ဈေးနှုန်း (ကျပ်/ Drums)** |
| | Finished Lubricant<br>200 L Drum | ၂၄,၀၀၀ / ၃၀၀,၀၀၀ |
| ၉။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း** / **ပြည်ပ**<br>**ဦးရေ** ၂၂ ဦး / -<br>**အမြင့်ဆုံးလစာ** ကျပ် ၃,၀၀၀,၀၀၀ / -<br>**အနိမ့်ဆုံးလစာ** ကျပ် ၈၀၀,၀၀၀ / - |
| ၁၀။ | အခြားတင်ပြချက်များ | - အတည်ပြုလျှောက်ထားလွှာနှင့်အတူ Kyay 'O' Kyee Petroleum Products Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (မိတ္တူ) ၊ MOA, AOA ၊ မြေကွက်အပြီးအပိုင်အရောင်းအဝယ်စာချုပ်၊ မြေဆိုင်ရာအထောက်အထားများနှင့် အဆောက်အဦ Layout Plan များ တို့ကို ပူးတွဲတင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Kyay 'O' Kyee Petroleum Products Co., Ltd. အမည်ဖြင့် United Amara Bank Limited ၌ ၂၇-၄-၂၀၁၈ ရက်နေ့တွင် ကျပ် ၁၄၈,၈၁၅,၅၀၄.၀၀ ကြောင်း တင်ပြထားပါသည်။<br>- ကုန်ကြမ်းများအား စင်္ကာပူနိုင်ငံမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- စင်္ကာပူနိုင်ငံမှ နည်းပညာဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- DYNAMO Lubricants အမှတ်တံဆိပ်ဖြင့် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို |

| | | |
|---|---|---|
| | | လည်း တင်ပြထားပါသည်။<br>- ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်း လိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။<br>- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Energetic Alliance Petroleum Products Co., Ltd. အား Manufacturing and Sales of Lubricants လုပ်ငန်းဆောင်ရွက်ခွင့်အတွက် အတည်ပြုမိန့်အမှတ် ၀၈၂/၂၀၁၈ (၁၄-၂-၂၀၁၈) ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။ |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက - ၅(အ)/အ-၀၂၉/၂၀၁၈(၂၀၉)

ရက်စွဲ၊ ၂၀၁၈ခုနှစ်၊ ဇွန် လ ၁၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Kyay 'O' Kyee Petroleum Products Co., Ltd. မှ အင်ဂျင်ဝိုင်ရောစပ်ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Kyay 'O' Kyee Petroleum Products Co., Ltd. မှ မြေကွက်အမှတ်-၆၈၊ မြောင်းတကာသံမဏိစက်မှုဇုန်၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၂.၂၅၁ ဧကပေါ်တွင် အင်ဂျင်ဝိုင်ရောစပ်ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာဖြင့် တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Kyay 'O' Kyee Petroleum Products Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် (မိတ္တူ) ၊ MOA နှင့် AOA ၊ မြေကွက်အပြီးအပိုင်အရောင်းအဝယ်စာချုပ်၊ မြေဆိုင်ရာအထောက်အထားများနှင့် အဆောက်အဦ Layout Plan များ ပူးတွဲတင်ပြထားပါသည်။

၃။ တည်ဆောက်ရေး ကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၆,၁၀၀.၀၀ သန်းဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| ထည့်ဝင်မည့် အမျိုးအစား | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်( သန်း) |
|---|---|---|---|
| ငွေသား | ၉၆၃.၉၁ | - | ၉၆၃.၉၁ |
| စက်နှင့်စက်ပစ္စည်း | ၉၃၇.၂၉ | - | ၉၃၇.၂၉ |
| အဆောက်အဦကုန်ကျစရိတ် | ၄၅၉.၃၀ | - | ၄၅၉.၃၀ |
| ကနဦးကုန်ကြမ်း | - | ၂.၇၇ | ၃,၇၃၉.၅၀ |
| စုစုပေါင်း | ၂,၃၆၀.၅၀ | ၂.၇၇ | ၆,၁၀၀.၀၀ |

ကန့်သတ်

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၂၂) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၈၀၀,၀၀၀နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃,၀၀၀,၀၀၀ ဖြစ်ပါသည်။

၆။ လုပ်ငန်းမှထွက်ရှိသော Lubricants များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ထုတ်လုပ်မည့် ပစ္စည်းအမျိုးအမည် | ထုတ်လုပ်မှု အရေအတွက် (Drums) | ဈေးနှုန်း (ကျပ်/Drums ) |
|---|---|---|---|
| (က) | Finished Lubricant 200 L Drum | ၂၄,၀၀၀ | ၃၀၀,၀၀၀ |

၇။ လုပ်ငန်းနှင့်စပ်လျဉ်း၍ လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာနသို့ ၅-၆-၂၀၁၈ ရက်နေ့တွင် သဘောထား မှတ်ချက် တောင်းခံထားပါသည်။

၈။ ငွေကြေးအထောက်အထားအဖြစ် Kyay 'O' Kyee Petroleum Products Co., Ltd. အမည်ဖြင့် United Amara Bank Limited ၌ ၂၇-၄-၂၀၁၈ ရက်နေ့တွင် ကျပ် ၁၄၈,၈၁၅,၅၀၄.၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကိုလည်း တင်ပြထားပါသည်။

(ဂ) ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဃ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Energetic Alliance Petroleum Products Co., Ltd. အား Manufacturing and Sales of Lubricants လုပ်ငန်း ဆောင်ရွက်ခွင့်အတွက် အတည်ပြုမိန့်အမှတ် ၀၈၂/၂၀၁၈ (၁၄-၂-၂၀၁၈) ဖြင့် ခွင့်ပြုမိန့် ထုတ်ပေးခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ သို့ဖြစ်ပါ၍ Kyay 'O' Kyee Petroleum Products Co., Ltd. မှ အင်ဂျင်ဝိုင်ရောစပ်ထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက်တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ